




ပုံစံ (မနသ-၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၅၇ / ၂၀၁၄ ၂၀၁၄ ခုနှစ်၊ ဖေဖော်ဝါရီ လ ၁၀ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဒေါ်သန်းသန်းဝင်း

(ခ) အဘ အမည် ဦးချိန်ဖူဝမ်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင် အမှတ် ၁/မညန (နိုင်) ဝ၈၆၂၀၂

(ဃ) နေရပ်လိပ်စာ မြေကွက်အမှတ်-၃၂၄၊ မြေတိုင်းရပ်ကွက်အမှတ်-၁၉/၁၊ မင်္ဂလာမင်းသားကြီးလမ်း၊ ရွှေပေါက်ကံ့ စက်မှုဇုန်၊ မြောက်ဥက္ကလာပ မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း All Super Manufacturing Co., Ltd. (အားလုံး အကောင်းဆုံး ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ) မြေကွက်အမှတ်-၃၂၄၊ မြေတိုင်းရပ်ကွက်အမှတ်-၁၉/၁၊ မင်္ဂလာမင်းသားကြီးလမ်း၊ ရွှေပေါက်ကံ့ စက်မှုဇုန်၊ မြောက်ဥက္ကလာပ မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ (၁.၄၉၂) ဧက

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၂၃၁.၄၃ သန်း ခန့် (အမေရိကန်ဒေါ်လာ (၀.၂၀) သန်း အပါ အဝင် စုစုပေါင်းကျပ် နှစ်ရာ သုံးဆယ့် တစ်သန်း နှင့် လေးသိန်း သုံးသောင်းခန့်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်




ကန့်သတ်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၁၃ /၂၀၁၄(မနသ)

၂၀၁၄ ခုနှစ် ဖေဖော်ဝါရီ လ ၁၀ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော All Super Manufacturing Co., Ltd. (အားလုံး အကောင်းဆုံး ထုတ်လုပ်မှု ကုမ္ပဏီလီမိတက်)သည် ကုမ္ပဏီ၏ အုပ်ချုပ်မှု ဒါရိုက်တာ ဒေါ်သန်းသန်းဝင်း အမည်ဖြင့် မြို့ရွာ နှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာနမှ အသုံးပြုခွင့် ရရှိထားသော မြေကွက်အမှတ်-၃၂၄၊ မြေတိုင်းရပ်ကွက်အမှတ်-၁၉/၁၊ မဂ္ဂရာမင်းသားကြီးလမ်း၊ ရွှေပေါက်ကံ့စက်မှုဇုန်၊ မြောက်ဥက္ကလာပ မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီးရှိ မြေ(၁.၄၉၂) ဧကတွင် CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၂၄-၁-၂၀၁၄)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃/၂၀၁၄) အစည်းအဝေးမှ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂၊ ပုဒ်မခွဲ(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် All Super Manufacturing Co., Ltd. (အားလုံး အကောင်းဆုံး ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်) အား CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၅၇/၂၀၁၄ ကို ထုတ်ပေးလိုက်သည်။

၂။ All Super Manufacturing Co., Ltd. (အားလုံး အကောင်းဆုံး ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

ကန့်သတ်

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ)အရ လုပ်ငန်းက ထုတ်လုပ်သည့် ပစ္စည်းကို ပြည်ပသို့ တင်ပို့ရောင်းချလျှင် ထိုသို့ တင်ပို့ရောင်းချ၍ ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်းအထိ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၅)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့်နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင် တည်ဆောက်မှု ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဥ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဥ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြား မတည်ပစ္စည်းများအပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နှုတ်ပယ်ခွင့်နှင့်စပ်လျဥ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ ၂၀(ဈ)အရ လုပ်ငန်း တည်ဆောက်မှု ပြီးစီး၍ ပထမ သုံးနှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်း ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဥ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာ

များ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဈ) ဥပဒေပုဒ်မ ၂၀(ဈ)အရ ပြည်ပသို့ တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ All Super Manufacturing Co., Ltd. (အားလုံး အကောင်းဆုံး ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက် ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည်ဖော် ရမည်။

၅။ All Super Manufacturing Co., Ltd. (အားလုံး အကောင်းဆုံး ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစု ထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၇။ All Super Manufacturing Co., Ltd. (အားလုံး အကောင်းဆုံး ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် Initial Environmental Examination (IEE) နှင့် Environmental Management Plan (EMP) တို့ကို ပြုလုပ် ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် သက်ဆိုင်ရာ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့သို့ ပေးပို့ အစီရင်ခံရမည်။

၈။ All Super Manufacturing Co., Ltd. (အားလုံး အကောင်းဆုံး ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့်ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၀)၊ ပုဒ်မ ၁၉ (ဂ)ပါ သတ်မှတ်ချက်များနှင့် အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှု ဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၉။ All Super Manufacturing Co., Ltd. (အားလုံး အကောင်းဆုံး ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ် ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံး လုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင် ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံး ပစ္စည်းများ အသုံးပြုတတ်စေရန်အတွက် သင်တန်းများ ပေးရမည်။

၁၀။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံ ကတိ ပြုထားသည့် အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက် မကွက်** အစီရင်ခံရမည်။

၁၁။ All Super Manufacturing Co., Ltd. (အားလုံး အကောင်းဆုံး ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်)သည် ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း ဒေသကြီး စက်မှု ကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှု လုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၁၂။ All Super Manufacturing Co., Ltd. (အားလုံး အကောင်းဆုံး ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံ ဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပမာဏ၊ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသလိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ် လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၄။ All Super Manufacturing Co., Ltd. (အားလုံး အကောင်းဆုံး ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ချမှတ် ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ရမည်။

၁၅။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့်နိုင်ငံခြားသား သို့မဟုတ် မည်သည့် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် စက်ရုံ ပိတ်သိမ်းနိုင်ရေး အတွက်သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၂(င)အရ နောင်တွင် မည်သည့်ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ် ယူရမည်။

(ဝင်းရှိန်)
ဥက္ကဋ္ဌ



CMP Permit.doc

စာအမှတ်၊ရကက-၆(က)/မ-၁၃၈၈ / ၂၀၁၄ (၁၄၅၀ – ဃ)
ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဖေဖော်ဝါရီလ ၁၀ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

ဘဏ္ဍာရေး ဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

ဆက်သွယ်ရေး နှင့် သတင်းအချက်အလက် နည်းပညာ ဝန်ကြီးဌာန

ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၊ ရန်ကုန်မြို့

ဥက္ကဋ္ဌ၊ CMP လုပ်ငန်းများကြီးကြပ်ရေး ကော်မတီ၊ (အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန)

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန

ကန့်သတ်

၇

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထည်အလိပ် လုပ်ငန်း

ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း

အုပ်ချုပ်မှုဒါရိုက်တာ၊ All Super Manufacturing Co., Ltd.

(အားလုံး အကောင်းဆုံး ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်)

## All Super Manufacturing Co., Ltd. မှ CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခွင့် နှင့် စပ်လျဥ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - All Super Manufacturing Co., Ltd. |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဒေါ်သန်းသန်းဝင်း (မန်နေဂျင်းဒါရိုက်တာ) |
| ၃။ | အဖွဲ့အစည်းပုံသဏ္ဍာန် | - လီမိတက်ကုမ္ပဏီ(Private Company ဖြစ်ပါသည်။) |
| ၄။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်း |
| ၅။ | လုပ်ငန်းတည်နေရာ /<br>မြေအကျယ်အဝန်း | - ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံ စက်မှုဇုန်၊ မက္ခရာ မင်းသားကြီးလမ်း၊ အမှတ်- ၃၂၄/၁၉/၁ ရှိ မြေ(၁.၄၉၂)ဧက |
| ၆။ | ရင်းနှီးမြှုပ်နှံမှုပမာဏ<br>- ငွေသား<br>- စက်ပစ္စည်းကိရိယာများ<br>- အဆောက်အဦပြင်ဆင်စရိတ်<br>- ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | - **ကျပ် ၂၃၁.၄၃ သန်း** (US$ ၀.၂၀ သန်း အပါအဝင်)<br>ကျပ် ၁၀.၀၀ သန်း<br>ကျပ် ၁၉၆.၃၇ သန်း (US$ ၀.၂၀ သန်း အပါအဝင်)<br>ကျပ် ၂၀.၀၀ သန်း<br>ကျပ် ၅.၀၆ သန်း |
| ၇။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - နှစ်(၃၀) |
| ၈။ | တည်ဆောက်ရေးကာလ | - ၁၂ လ |
| ၉။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br>- ကျပ် ၁၀၃.၂၄ သန်း<br>- ကျပ် ၁၅.၃၇ သန်း |
| ၁၀။ | ရောင်းချပုံနည်းစနစ် | - CMP စနစ်ဖြင့် ပြည်ပ (၉၉%)၊ ပြည်တွင်း (၁%) |
| ၁၁။ | လုပ်သားအင်အား<br>ပြည်တွင်း<br>ပြည်ပ | - (၈၈၃) ဦး<br>(၈၈၀) ဦး<br>(၃) ဦး |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက- ၆(က)/မ- ၁၃၈၈ / ၂၀၁၄(၅၁၁-မ)
ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဇန်နဝါရီလ ၁၇ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **All Super Manufacturing Co., Ltd. မှ CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ All Super Manufacturing Co., Ltd.သည် ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပ မြို့နယ်၊ ရွှေပေါက်ကံ စက်မှုဇုန်၊ မဂ္ဂရာ မင်းသား ကြီးလမ်း၊ အမှတ်-၃၂၄/၁၉/၁ ရှိ မြေ(၁.၄၉၂)ဧက တွင် CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်သန်းသန်းဝင်း (အဘ-ဦးချိန်ဖူဝမ်)မှ အဆိုပြုချက် တင်ပြလာခြင်း ဖြစ်ပါသည်။ အဆိုပါ အဆိုပြုလွှာကို အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၃၃/၂၀၁၃ (၁၂-၁၂-၂၀၁၃) အစည်းအဝေးသို့ တင်ပြခဲ့ပြီး ဖြစ်ပါသည်။

၂။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းမှာ နှစ်(၃၀) ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ (၁၂)လ ဖြစ်ပါသည်။

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ(၀.၂၀)သန်း အပါအဝင် စုစုပေါင်း ကျပ်(၂၃၁.၄၃)သန်းဖြစ်ပါသည်။ စက်ပစ္စည်း ကိရိယာများ အမေရိကန်ဒေါ်လာ (၀.၂၀) သန်းဖိုးကို ပြည်ပမှ ဝယ်ယူမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) | ငွေသား | ကျပ် | ၁၀.၀၀ သန်း |
| (ခ) | စက်ပစ္စည်းကိရိယာများ | ကျပ် | ၁၉၆.၃၇ သန်း (US$ ၀.၂၀ သန်း အပါအဝင်) |
| (ဂ) | အဆောက်အဦပြင်ဆင်စရိတ် | ကျပ် | ၂၀.၀၀ သန်း |
| (ဃ) | ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ | ကျပ် | ၅.၀၆ သန်း |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **ကျပ်** | **၂၃၁.၄၃ သန်း** (US$ ၀.၂၀ သန်းအပါအဝင်) |

၄။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း (၈၈၀)ဦး နှင့် ပြည်ပမှ ပညာရှင်(၃)ဦး အချိန်ပိုင်း ခန့်ထားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်တွင်း ဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် (၁၀၀,၀၀၀) ဖြစ်ပါသည်။

၅။ အဆိုပြု လုပ်ငန်းမှ ချုပ်လုပ်ပြီး အထည်များကို CMP စနစ်ဖြင့် ပြည်ပသို့ (၉၉) ရာခိုင်နှုန်း တင်ပို့ရောင်းချပြီး ပြည်တွင်း၌ Reject (၁)ရာခိုင်နှုန်း ရောင်းချမည် ဖြစ်ပါသည်။ ၇ နှစ်မြောက်တွင် ထုတ်လုပ်နိုင်မှု၊ CMPလက်ခနှုန်းနှင့် ပြည်တွင်းရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဥ် | အမျိုးအမည် | ထုတ်လုပ်မှု အရေအတွက် (Pcs) | CMP လက်ခနှုန်း (USD/Pcs) | ပြည်တွင်း ရောင်း ဈေးနှုန်း (ကျပ်/ Pcs) |
|---|---|---|---|---|
| (က) | Jacket | ၂,၁၉၆,၁၅၀ | ၁.၁၆ | ၈၀၀၀ |
| (ခ) | Pants | ၂,၁၉၆,၁၅၀ | ၀.၇၅ | ၆၀၀၀ |

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ၇ နှစ်မြောက်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

**အမေရိကန်တစ်ဒေါ်လာ=၉၇၃ ကျပ်**

| | | US$ | ညီမျှသော ကျပ်(သန်း) | ပြည်တွင်း ကျပ်(သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|---|---|
| (က) | ဝင်ငွေ | ၄.၁၅၃ | ၄၀၄၀.၈၇ | ၃၀၇.၄၇ | ၄၃၄၈.၃၄ |
| (ခ) | အသုံးစရိတ် | ၀.၀၃၉ | ၃၇.၉၅ | ၄၀၀၀.၆၆ | ၄၀၃၈.၆၁ |
| (ဂ) | အသားတင် အမြတ် | ၄.၁၁၄ | ၄၀၀၂.၉၂ | (၃၆၉၃.၁၉) | ၃၀၉.၇၃ |

၇။ နိုင်ငံတော်မှ ၇ နှစ်မြောက်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန် ကျပ်(၁၅.၃၇)သန်း နှင့် ဝင်ငွေခွန် ကျပ် (၁၀၃.၂၄)သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ ကာလမှာ (၄)နှစ် နှင့် (၁၁)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၂၇% ရာခိုင်နှုန်း ဖြစ်ပါသည်။

၈။ ယင်းအဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထား များတောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည် -

(က) **ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ (နောက်ဆက်တွဲ - က)**

(၁) ရင်းနှီးမြှုပ်နှံမှုပြုမည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြ စီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါကြောင်း၊

(၂) အဆိုပြုလုပ်ငန်း လည်ပတ်လုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား(၈၈၀)ဦး အလုပ်အကိုင် ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်စေပါကြောင်း၊

(၃) အဆိုပြုလုပ်ငန်း လုပ်ကိုင်ရန်အတွက် မြေ(၁.၄၉၂)ဧက၊ (၆၀၃၇.၉၀၉) စတုရန်းမီတာအား နှစ်(၃၀)ငှားရမ်းသုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း၊

(၄) အဆိုပြုလုပ်ငန်း လုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင် ထိခိုက်နိုင်မှု မရှိပါကြောင်း

(၅) ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ ၏ ၁/၂၀၁၄ (၂-၁-၂၀၁၄) အစည်းအဝေး ဆုံးဖြတ်ချက် အပိုဒ်(၃)အရ All Super Manufacturing Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်ခြင်းအား ခွင့်ပြုသင့်ပါကြောင်း၊

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန (နောက်ဆက်တွဲ - ခ)**

(၁) လုပ်ငန်းတွင် အဓိက အသုံးပြုမည့် ကုန်ကြမ်းစွန့်ပစ်ပစ္စည်းများအား ပြန်လည်အသုံးပြုမည့် အစီအစဉ်၊ ယင်းစွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မည့် နည်းလမ်းများ၊ စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှု အစီအစဉ်များ စီမံဆောင်ရွက်သွားရန်၊

(၂) အထည်ချုပ် လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းရေးဆွဲ ချမှတ်ခြင်း၊ ထုတ်လုပ်ခြင်းအဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းပညာများ အသုံးပြု ဆောင်ရွက်ရန်၊

(၃) စီမံကိန်း လုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်မှု လျော့နည်းစေရန်အတွက် လုပ်ငန်း အကောင်အထည်မဖော်မီ လိုအပ်သည့် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦး လေ့လာခြင်း (Initial Environmental Examination-IEE)လုပ်ငန်းကို ဆောင်ရွက်ရန်၊

(၄) အဆိုပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင် နှင့် လူမှုရေး ဆိုင်ရာ ထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့် လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်း

များအတွက် သုံးစွဲမည့် ရန်ပုံငွေများ ပါဝင်သော ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan –EMP)ကို ရေးဆွဲ တင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(၅) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်း၊ စည်းမျဉ်းစည်းကမ်းတို့နှင့်အညီ လိုက်နာ ကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

**(ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်မှု လျော့နည်းစေရန်အတွက် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦး လေ့လာခြင်း (Initial Environmental Examination – IEE) ပြုလုပ်၍ ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan _ EMP)ကို ရေးဆွဲတင်ပြပြီး စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း ဝန်ခံ ကတိပြုထားပါသည်။)**

(ဂ) CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ (နောက်ဆက်တွဲ - ဂ)

(၁) အဆိုပြုချက်ပါ တစ်နှစ်လုံးအတွက် ကုန်ကြမ်းလိုအပ်ချက်မှာ တစ်ထည် လိုအပ်ချက်နှုန်း၊ တားမြစ် သတ်မှတ်စံနှုန်းများ တွက်ချက်ရာတွင် ကိုက်ညီမှု မရှိကြောင်း၊ ပစ္စည်း အားလုံးထုတ်လုပ်မည်ဆိုပါက စုစုပေါင်းကုန်ကြမ်း ၇၁၃၂၅၀၀ ကိုက် ကုန်ကျမည်ဖြစ်ပြီး အဆိုပြုချက်တွင် ၁၇၈၈၇၅၀၀ ကိုက် ဖော်ပြထားသဖြင့် ၁၀၇၅၅၀၀၀ ကိုက် ပိုများနေ၍ ပြင်ဆင် တင်ပြသင့်ပါကြောင်း၊

(၂) CMPလက်ခနှုန်းထားများသည် အထည်ချုပ်အသင်း၏ လက်ရှိ CMP လက်ခနှုန်းများနှင့် နှိုင်းယှဉ်ရာတွင် နည်းနေသဖြင့် ပြင်ဆင်တင်ပြသင့်ပါကြောင်း၊

(၃) အဆိုပြုချက်ပါ ထုတ်လုပ်မည့် ပစ္စည်းများမှ Jacket, Pants ပစ္စည်းများ ဖြစ်ပြီး ပြည်ပ/ပြည်တွင်းရှိ Sewing M/C (၃၅၂)လုံး၊ Two Needle M/C (၈၃)လုံး၊ Over Lock/ Inter Lock M/C (၁၀၀)လုံးဖြင့် Skilled Workers (၄၀၀) ဦး၊ Unskilled Workers (၂၀၀) ဦး၊ Helper (၅၀)ဦး ဖော်ပြထားပြီး ပြုလုပ်မည့် စက် အရေ အတွက်နှင့် လူအရေအတွက် ညီမျှမှု မရှိပါကြောင်း၊

(၄) စက်အင်အား၊ လူအင်အားနှင့် ပထမနှစ်၌ ထုတ်လုပ်ရန် ဖော်ပြချက် နှင့် နှိုင်းယှဉ်ပါက တစ်ဝက်ခန့်သာ ထုတ်လုပ်နိုင်မည်ဖြစ်၍ ထုတ်လုပ်နိုင်သည့် ကုန်ကြမ်း အတိုင်းသာ တင်သွင်းသင့်ကြောင်း၊

(၅) All Super Manufacturing Co., Ltd. အနေဖြင့် ပြင်ဆင်တင်ပြပြီးမှ သာခွင့်ပြုသင့်ကြောင်း၊

**(ကုမ္ပဏီမှ CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ နှင့် ညှိနှိုင်း၍ ပြင်ဆင်ပြီး ပြန်လည် တင်ပြလာပါသည်။)**

(ဃ) **ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှု လုပ်ငန်းရှင်များ အသင်းချုပ် (နောက်ဆက်တွဲ - ဃ)**

All Super Manufacturing Co., Ltd. သည် အမှတ်-၃၂၄/၁၉/၁၊ မက္ခရာမင်းသားကြီးလမ်း၊ ရွှေပေါက်ကံ စက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားခြင်းအပေါ် ကန့်ကွက်ရန် မရှိပါကြောင်း၊

၉။ CMP စနစ်ဖြင့် အဝတ်အထည်မျိုးစုံ ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန်အတွက် HIRAKI CO., LTD. (ဂျပန်) နှင့် All Super Manufacturing Co., Ltd. တို့ ချုပ်ဆိုထားသည့် Memorandum Of Understanding ကို တင်ပြထားပါသည်။

၁၀။ ကျပ်ငွေ အထောက်အထားအဖြစ် ကုမ္ပဏီအမည်ဖြင့် Myanmar Oriental Bank Ltd ရှိ (၁၉-၁၁-၂၀၁၃)နေ့ ငွေလက်ကျန် ကျပ်(၁၀၀.၀၀)သန်း တင်ပြထားရာ သုံးစွဲမည့်ငွေ ကျပ်(၄၀.၇၉) သန်း အတွက် လုံလောက်မှု ရှိကြောင်း စိစစ်တွေ့ရှိရပါသည်။ နိုင်ငံခြားငွေ အထောက်အထားအဖြစ် ကုမ္ပဏီအမည်ဖြင့် Myanmar Oriental Bank Ltd ရှိ (၂၀-၁-၂၀၁၄)နေ့ ငွေလက်ကျန် US$ (၇၀၁၂၈.၇၁) [သုံးစွဲမည့် နိုင်ငံခြားငွေ US$(၁၉၅,၉၃၀)၏ ၃၆ %] တင်ပြ ထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိပါကြောင်း၊ အဆိုပြုလုပ်ငန်းသည် လုပ်ငန်းအသစ် ဖြစ်ပါကြောင်း၊ လုပ်ငန်းမှ ထွက်ရှိသော အဝတ်အထည်များ၏ ၁ % ကို ပြည်တွင်းတွင် ရောင်းချမည် ဖြစ်ပြီး ၉၉%ကို ပြည်ပသို့ တင်ပို့မည် ဖြစ်ပါကြောင်း၊မြေယာပိုင်ဆိုင်မှုနှင့်စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်းဒေသကြီး ဒေသန္တရ စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုထားပါသည်။ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းများ သက်သာချောင်ချိရေးအစီအစဉ်၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန်နှင့် မီးဘေးကြိုတင် ကာကွယ်ရေး အစီအစဉ်များ တင်ပြ ထားပါသည်။

၁၂။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားအတွက် မဟာဓါတ်အားလိုင်းမှ သုံးစွဲမည်ဖြစ်ပြီး လိုအပ်ပါက ကိုယ်ပိုင် မီးစက်(Generator 300 KVA)ဖြင့် သုံးစွဲသွားမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ ၊ ဃ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည ၊ ဋ ) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလာလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

၁၃။ သို့ဖြစ်ပါ၍ All Super Manufacturing Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပ မြို့နယ်တွင် CMP စနစ် ဖြင့် အထည်ချုပ်လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ

ရုံးလက်ခံ

နောက်ဆက်တွဲ(က)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

၀၆၃
၉၊၁၊၁၃

စာအမှတ်၊ ၂ / ၃ - ၆ (၅) / စီးပွား
ရက် စွဲ ၊၂၀၁၄ ခုနှစ်၊ ဇန်နဝါရီ လ ၈ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၆. ၁၂. ၂၀၁၃ ရက်စွဲပါစာအမှတ်၊ ရက - ၆(က) / မ - ၁၃၈၈ / ၂၀၁၃ (၂၉၈၂)

၁။ All Super Manufacturing Co., Ltd. သည် အမှတ်-၃၂၄/၁၉/၁၊ မက္ကရာ မင်းသားကြီးလမ်း၊ ရွှေပေါက်ကံ စက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင် CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်းနှင့် ပတ်သက်၍ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းစာဖြင့်ညှိနှိုင်း အကြောင်းကြားလာခြင်းအပေါ် ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည် -

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်း လည်ပတ်လုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၇၈၀)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါသည်၊

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန်အတွက် မြေ(၁. ၄၉၂)ဧက၊ (၆၀၃၇. ၉၀၉)စတုရန်းမီတာအား နှစ်(၃၀)ငှားရမ်းသုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်၊

(ဃ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်နိုင်ခြင်းမရှိပါ။

Lesson/2014/ 1.,1

၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၂.၁.၂၀၁၄) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁/၂၀၁၄)၊ ဆုံးဖြတ်ချက်အပိုဒ် ( ၃ ) အရ All Super Manufacturing Co., Ltd.၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့် ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလုံခြုံရေးနှင့်နယ်စပ်ရေးရာဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
မြောက်ဥက္ကလာပမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
All Super Manufacturing Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

နောက်ဆက်တွဲ(ခ)



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်    ၂/၂၂၀(ခ)(၆)/(၈၇၅၂ /၂၀၁၃)
ရက်စွဲ    ၂၀၁၃ ခုနှစ်၊ ဒီဇင်ဘာလ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ All Super Manufacturing Co., Ltd မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့် ပတ်သက်၍သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၆ - ၁၂ - ၂၀၁၃ ရက်စွဲပါစာအမှတ်၊ ရက-၆(က)/မ-၁၃၈၈/၂၀၁၃(၂၉၈၂၂)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ All Super Manufacturing Co., Ltd သည် ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုန်၊ မဂ္ဂရာမင်းသားကြီးလမ်း၊ အမှတ် ၃၂၄ / ၁၉ / ၁ ရှိ မြေ (၁.၄၉၂) ဧက (၆၀၃၇.၉၀၉) စတုရန်းမီတာပေါ်တွင် CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့် ပတ်သက်၍ စိစစ်ပြီး အဆိုပြုမြေနေရာတွင် လုပ်ငန်းဆောင်ရွက်ရန် သင့်/မသင့်နှင့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှု ရှိ/မရှိ စသည့်အချက်များအပေါ် စိစစ်ပြီးဌာနဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံခွင့်လျှောက်ထားခြင်း၊ ရင်းနှီးမြှုပ်နှံမှုကာလမှာကနဦးနှစ်(၃၀)ဖြင့်စတင်ဆောင်ရွက်မည်ဖြစ်ကြောင်း၊အသုံးပြုမည့်စက်ပစ္စည်းနှင့်ကုန်ကြမ်းပစ္စည်းစာရင်း၊အထည်ချုပ်စက်ရုံပုံစံ၊စက်ရုံဝန်ထမ်းများအတွက်သက်သာချောင်ချိရေးနှင့်ကျန်းမာရေးအတွက် ဆောင်ရွက်ထားရှိမည့် အစီအစဉ်များ၊ မီးဘေးကာကွယ်ရေးအစီအစဉ်များ၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားရှိမှု အစီအစဉ်များသာ ဖော်ပြပါရှိပြီး ပတ်ဝန်း ကျင်ထိခိုက်မှုမရှိစေရေးနှင့်ပတ်သက်၍ စက်ရုံမှထွက်လာမည့် စွန့်ပစ်ရေဆိုးများအား သန့်စင်ရေး

၃။ အထည်ချုပ်စက်ရုံတွင် အသုံးပြုမည့် Polyester, Elastic, Nylon, Fabric စသည့် ကုန်ကြမ်းပိတ်စများသည်ဆွေးမြေ့ပျက်စီးရန်အချိန်ကြာမြင့်သဖြင့် ပတ်ဝန်းကျင် ထိခိုက် ပျက်စီးမှု ဖြစ်ပေါ်နိုင်ခြင်း၊ လုပ်ငန်းစဉ်အဆင့်တိုင်းတွင် ထွက်ရှိလာမည့် ပိတ်ဖြတ်စများ၊ အမှုန်အမွှားများကြောင့် ပတ်ဝန်းကျင်လေထုနှင့် မြေထုညစ်ညမ်းမှုများ ဖြစ်ပေါ်နိုင်ခြင်း၊ ပိတ်စဖြတ်ခြင်း၊ ပုံစံညှပ်ခြင်း၊ အထည်ချုပ်လုပ်ခြင်း လုပ်ငန်းအဆင့်ဆင့်တွင် စက်များ အသုံးပြု၍ ဆောင်ရွက်မည်ဖြစ်သဖြင့် အသံဆူညံခြင်းစသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ် စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ အထည်ချုပ်လုပ်ခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းနှင့် ပတ်သက်၍ အောက်ဖော်ပြပါ အချက်များအတိုင်းလိုက်နာရန် လိုအပ်မည်ဖြစ်ပါကြောင်း ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်-

(က) လုပ်ငန်းတွင် အဓိကအသုံးပြုမည့် ကုန်ကြမ်းစွန့်ပစ် ပစ္စည်းများအား ပြန်လည်အသုံးပြု မည့်အစီအစဉ်၊ ယင်းစွန့်ပစ်ပစ္စည်းများအား စနစ်တကျစွန့်ပစ်မည့်နည်းလမ်းများ၊ စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှု အစီအစဉ်များ စီမံဆောင်ရွက်သွားရန်၊

(ခ) အထည်ချုပ်လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်း ရေးဆွဲချမှတ်ခြင်း၊ ထုတ်လုပ်ခြင်းအဆင့်ဆင့်တို့အတွက် စီမံကိန်းဆိုင်ရာအချက်အလက်များ ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ် လုပ်မှုနည်းပညာများ အသုံးပြုဆောင်ရွက်ရန်၊

(ဂ) စီမံကိန်းလုပ်ငန်းဆောင်ရွက်မှုကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းအကောင်အထည်မဖော်မီ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့် ကြော်ငြာစာအမှတ် (၁/၂၀၁၃)အရ လိုအပ်သည့် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း (Initial Environmental Examination-IEE) လုပ်ငန်းကို ဆောင်ရွက်ရန်၊

(၁/၂၀၁၃)အရ လိုအပ်သည့် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း (Initial Environmental Examination-IEE) လုပ်ငန်းကို ဆောင်ရွက်ရန်၊

(ဃ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ် ပစ္စည်း/စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု စီမံချက် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(င) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းတို့နှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

( မျိုး ညွန့် ၊ ဒု တိ ယ ရုံး အ ဖွဲ့ မှူး )

မိတ္တူ - ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

- ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

နောက်ဆက်တွဲ(ဂ)





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

စာအမှတ်၊ ၃၄-အလ/ခွဲ (၂)၂၀၁၃(၁၂၃၈၁)
ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ ဒီဇင်ဘာလ ၁၇ ရက်

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ All Super Manufacturing Co.,Ltd မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်အပေါ် သဘောထားမှတ်ချက်ပေးပို့ခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၆ . ၁၂ . ၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ရက - ၆ (က)/ မ - ၁၃၈၈/ ၂၀၁၃ (၂၉၈၂၄)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုန်၊ မင်္ဂလာမင်းသားကြီးလမ်း၊ မြေကွက် အမှတ်(၃၂၄/၁၉/၁) တွင် All Super Manufacturing Co.,Ltd တည်ထောင်၍ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်းဆောင်ရွက်ရန် တင်ပြမှုအပေါ် CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်း စစ်ဆေးရေးအဖွဲ့ ဥက္ကဋ္ဌ၊ အလုပ်ရုံနှင့် အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန၊ ညွှန်ကြားရေးမှူးချုပ်၊ ဦးဝင်းရှိန် နှင့် အမှတ်(၁၇)စက်ရုံမှူး ဒေါ်လှသီတာတို့သည် ၁၃.၁၂.၁၃ ရက်(၁၀း၃၀)နာရီတွင် တာဝန်ရှိသူများနှင့် တွေ့ဆုံ၍ မေးမြန်းခဲ့ပါသည်။

၂။ All Super Manufacturing Co.,Ltd၏ အဆိုပြုချက်အား အောက်ပါ အတိုင်း စိစစ်တင်ပြအပ်ပါသည် -

(က) **C.M.P ကုန်ကြမ်း လိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှု ရှိ/မရှိ**

အဆိုပြုချက်ပါ ကုန်ကြမ်း လိုအပ်ချက် ဖော်ပြမှုကို စိစစ်ရာ အောက်ပါအတိုင်း တွေ့ရှိရပါသည် -

| ချုပ်ထည် | တစ်ထည် လိုအပ်ချက်နှုန်းထား | ပုံမှန်လိုအပ်ချက်နှုန်းထားများ ကိုက်ညီမှုရှိ/မရှိ |
|---|---|---|
| 1. Jacket | 2.755 yds/Pcs | ကိုက်ညီမှုရှိပါသည်။ |
| 2. Pants | 2.47 yds/Pcs | ကိုက်ညီမှုမရှိပါ။ |

အဆိုပြုချက်ပါ တစ်နှစ်လုံးအတွက် ကုန်ကြမ်းလိုအပ်ချက်မှာ တစ်ထည် လိုအပ်ချက်နှုန်း၊ တားမြစ်သတ်မှတ်စံနှုန်းများ တွက်ချက်ရာတွင် ကိုက်ညီမှု မရှိကြောင်း တွေ့ရှိရပါသည် -

| ချုပ်ထည် | အဆိုပြု ထုတ်လုပ်မှု အရေအတွက် | တစ်ထည် လိုအပ်ချက်နှုန်းထား | လိုအပ်မည့်ကုန်ကြမ်း အရေ အတွက် ပုံမှန်စံနှုန်း |
|---|---|---|---|
| 1. Jacket | 1500000 Pcs | 2.755 yds/Pcs | 4132500 yds |
| 2. Pants | 1500000 Pcs | 2.0 yds/Pcs | 3000000 yds |

ပစ္စည်းအားလုံး ထုတ်လုပ်မည်ဆိုပါက စုစုပေါင်းကုန်ကြမ်း ၇၁၃၂၅၀၀ ကိုက် ကုန်ကျမည်ဖြစ်ပြီး အဆိုပြုချက်တွင် ၁၇၈၈၇၅၀၀ ကိုက် ဖော်ပြထား သဖြင့် ၁၀၇၅၅၀၀၀ ကိုက် ပိုများနေ၍ ပြင်ဆင်တင်ပြသင့်ပါသည် -

## (ခ) C.M.Pလက်ခနှုန်းထားများ တင်ပြမှုဆီလျော်မှုရှိ/မရှိ

အဆိုပြုချက်ပါ C.M.P လက်ခ နှုန်းထားများသည် အထည်ချုပ်အသင်း၏ လက်ရှိ C.M.P လက်ခ နှုန်းများနှင့် နှိုင်းယှဉ်ရာတွင် နည်းနေကြောင်း တွေ့ရှိရ၍ ပြင်ဆင်တင်ပြသင့်ပါသည်-

| ချုပ်ထည် | အဆိုပြုချက်ပါ CMP လက်ခနှုန်းထား | အထည်ချုပ်အသင်း၏ လက်ရှိ CMPလက်ခနှုန်းထား |
|---|---|---|
| 1. Jacket | 9.6 US$/Dz | 16- 18US$/Dz |
| 2. All Kinds of Pants | 7.2 US$/Dz | 8- 10 US$/Dz |

## (ဂ) နှစ်စဉ်ထုတ်လုပ်မှု၊ စက်အင်အား၊ လူအင်အားအချိုးအစား ညီမျှမှု ရှိ/မရှိ

အဆိုပြုချက်ပါ ထုတ်လုပ်မည့် ပစ္စည်းများမှာ Jacket , Pants ပစ္စည်းများ ဖြစ်ပြီး ပြည်ပ / ပြည်တွင်းရှိ Sewing M/C (၃၅၂)လုံး၊ Two Needle M/C (၈၃)လုံး ၊ Over Lock/ Inter Lock M/C (၁၁၀)လုံး ဖြင့် Skilled Workers (၄၀၀) ဦး ၊ Unskilled Worker (၂၀၀) ဦး ၊ Helper (၅၀)ဦး ဖော်ပြထားပြီး ပြုလုပ်မည့် စက်အရေအတွက်နှင့် လူအရေအတွက် ညီမျှမှု မရှိပါ။ စက်စုစုပေါင်း (၅၄၅)လုံး ဖြင့် ထုတ်လုပ်မည် ဆိုပါက -

| ချုပ်ထည် | ကုန်ထုတ်စက် | တစ်ရက် ထုတ်လုပ်နိုင်မှု | တစ်နှစ်ထုတ်လုပ်မှု (၃၁၀) ရက် |
|---|---|---|---|
| 1. Jacket | စက်(၁)လိုင်း | ၁၆၅၀ ထည်/၁၀ နာရီ | ၅၁၁၅၀၀ ထည် |
| 2. Pants | စက်(၁)လိုင်း | ၂၇၀၀ ထည်/၁၀ နာရီ | ၈၃၇၀၀၀ထည် |

အဆိုပြုချက်ပါ ထုတ်လုပ်မှု အရေအတွက် အရ အောက်ပါအတိုင်း ထုတ်လုပ် နိုင်မည် ဖြစ်ပါသည် -

| ချုပ်ထည် | အဆိုပြု ထုတ်လုပ်မှု အရေအတွက် | တစ်နှစ်ထုတ်လုပ်နိုင်မှု ပမာဏ(ထည်) |
|---|---|---|
| 1. All Kinds of Jacket | 1500000 Pcs | 511500-512000 |
| 2. All Kinds of Pants | 1500000 Pcs | 837000-837000 |

အဆိုပြုချက်ပါ စက်အင်အား၊ လူအင်အားနှင့် ပထမနှစ်၌ ထုတ်လုပ်ရန် ဖော်ပြချက်နှင့် နှိုင်းယှဉ်ပါက တစ်ဝက်ခန့်သာ ထုတ်လုပ်နိုင်မည်ဖြစ်၍ ထုတ်လုပ်နိုင်သည့် ကုန်ကြမ်း အတိုင်းသာ တင်သွင်းသင့်ပြီး ပြင်ဆင် တင်ပြသင့်ပါသည်။

၃။ သို့ဖြစ်၍ All Super Manufacturing Co.,Ltd အနေဖြင့် ပြင်ဆင် တင်ပြပြီးမှသာ ခွင့်ပြုသင့်ပြီး မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲမွဲတေမှု လျော့ချရေးကို အထောက် အကူပြုနိုင်မည်ဖြစ်၍ CMP စနစ်ဖြင့် အထည်ချုပ် လုပ်ငန်း လုပ်ကိုင်ခွင့်ကို အားပေး ဆောင်ရွက် သင့်ကြောင်း အစီရင်ခံ တင်ပြ အပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(ထင်အောင်၊ အတွင်းရေးမှူး)
(ဒုတိယဝန်ကြီး၊ အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန)

မိတ္တူကို

- အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
 (CMP လုပ်ငန်းများ စစ်ဆေးရေးဆပ်ကော်မတီ)
- အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန
 (CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)
- All Super Manufacturing Co.,Ltd
- ရုံးလက်ခံ
- မျှောစာတွဲ

မနာ(ယ)ဆာကတွ(ဃ)



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ ကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

THE REPUBLIC OF THE UNION OF MYANMAR FEDERATION OF CHAMBERS OF COMMERCE AND INDUSTRY

NO.29, MIN YE KYAW SWAR STREET, LANMADAW TOWNSHIP, YANGON, MYANMAR
(ESTABLISHED. 1919)

စာအမှတ်။ ဝ/၄-ခ-(၁၅၃)/(ဝန်ဆောင်)/၁၃-၁၆၆၈၁၇

ရက်စွဲ။ ၂၀၁၃ ခုနှစ်၊ ဒီဇင်ဘာလ ၂၅ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

နေပြည်တော်

အကြောင်းအရာ။ ။ All Super Manufacturing Co., Ltd အတွက် သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ။

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၂၀၁၃ခုနှစ်၊ ဒီဇင်ဘာလ ၆ ရက်စွဲပါ စာအမှတ် ရကာ-၆(က)/မ-၁၃၈၈ /၂၀၁၃ ( ၂၉၈၂၃ )

၁။ All Super Manufacturing Co., Ltd သည် အမှတ် ၃၂၄ /၁၉ /၁ ၊ မင်္ဂလာမင်းသားကြီးလမ်း၊ ရွှေပေါက်ကံ စက်မှုဇုန် ၊ မြောက်ဥက္ကလာပ မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး၊ တွင် CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းကို မြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ လျှောက်ထား လာခြင်းအပေါ် ရည်ညွှန်းစာဖြင့် ဤအသင်းချုပ်သို့ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ညှိနှိုင်းမေတ္တာရပ်ခံစာ ကိုလက်ခံရရှိပါ သည်။

၂။ ဤအသင်းချုပ်မှ စိစစ်ခဲ့ရာ All Super Manufacturing Co., Ltd သည် အမှတ် ၃၂၄ /၁၉ /၁ ၊ မင်္ဂလာမင်းသားကြီးလမ်း၊ ရွှေပေါက်ကံ စက်မှုဇုန် ၊ မြောက်ဥက္ကလာပ မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး၊ တွင် စက်ရုံ တည်ရှိသည်မှာ မှန်ကန်ကြောင်း ကို ရွှေပေါက်ကံစက်မှုဇုန် စီမံခန့်ခွဲရေးကော်မတီ ၏ ၂၀-၁၂-၂၀၁၃ ရက်စွဲပါ စာအမှတ် ရပက / စမဇ /ထွေ -၁၃ / ၁၇၉ ထောက်ခံချက်နှင့်အတူ All Super Manufacturing Co., Ltd ( မြန်မာကုမ္ပဏီ) နှင့် MOU ( Memorandum of Understandings) ရေးထိုးထားသည့် HIRAKI CO.,LTD ( Japan) ၏ Company Profile စသည့် အထောက်အထား များ ကိုတင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ All Super Manufacturing Co., Ltd သည် အမှတ် ၃၂၄ /၁၉ /၁ ၊ မင်္ဂလာမင်းသားကြီးလမ်း၊ ရွှေပေါက်ကံ စက်မှုဇုန် ၊ မြောက်ဥက္ကလာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး၊တွင် CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းကို မြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်ရည်ညွှန်းစာဖြင့် ဤအသင်းချုပ် သို့ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန်လျှောက်ထားလာခြင်းအပေါ် ဤအသင်းချုပ်အနေဖြင့် ကန့်ကွက်ရန် မရှိပါ ကြောင်း ထောက်ခံတင်ပြအပ်ပါသည်။



၂၅/၁၂/၂၀၁၃

ဥက္ကဋ္ဌ ( ကိုယ်စား )

(အေးလွင် ၊ တွဲဖက်အထွေထွေအတွင်းရေးမှူး)

မိတ္တူကို

- လက်ခံစာတွဲ ၊မျှောစာတွဲ